ပုံစံ (၃)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၀၇၇/၂၀၁၈ ၂၀၁၈ ခုနှစ်၊ ဧပြီလ ၂၉ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၅၊ ပုဒ်မခွဲ(ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးကျော်ဝင်းအောင်

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ်(၈၉) ၊ ၅၀ လမ်း၊ အမှတ် (၁) ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** စားသုံးဆီထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့် အရပ်ဒေသ(များ)** မြေကွက်အမှတ်-(၁၉၀/က)၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ (စက်မှုဇုန်)၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေဧရိယာ ၀.၈၂၆ ဧက

(၈) **နိုင်ငံခြားမတည်ငွေရင်း ပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၃၄၂၃၄.၀၆ သန်း (အမေရိကန်ဒေါ်လာ ၁၉.၂၃ သန်း အပါအဝင် စုစုပေါင်းကျပ် သုံးသောင်းလေးထောင်နှစ်ရာသုံးဆယ်လေး နှင့် ခြောက်သောင်းခန့်)

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၂ နှစ်

(၁၂) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့် သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** ဒိုင်းမွန်းဒရက်ဂွန် ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited)

29.4.18

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၇
🖷 ၀၁-၆၅၈၁၃၆

စာအမှတ်၊မရက- ၂/ခ-၀၁၇/၂၀၁၈ (၂၃-က)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၃၀ ရက်

အကြောင်းအရာ။ **ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited) ၏ စားသုံးဆီထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ခွင့်ပြုမိန့်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited) ၏ ၂၈-၃-၂၀၁၈ ရက်စွဲပါစာ

၁။ Diamond Dragon Company Limited (ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက်) မှ ရန်ကုန်တိုင်းဒေသကြီး ၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃ (စက်မှုဇုန်)၊ မြေကွက်အမှတ်-(၁၉၀/က) ရှိ မြေ ၀.၈၂၆ ဧက ကို ငှားရမ်းကာ စားသုံးဆီထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဧပြီလ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၅/၂၀၁၈) ကြိမ်မြောက် အစည်းအဝေး၌တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited) အား စားသုံးဆီထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ ၀၇၇/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited) အနေဖြင့် ဤခွင့်ပြုမိန့် အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited) သည် ဤခွင့်ပြုမိန့်အရ **ထုတ်လုပ်မှုရည်မှန်းချက်များကိုအကောင်းဆုံး** အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

(ခ) ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဂ) ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက် ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီလိုက်နာ ဆောင်ရွက် ရမည်။

(ဃ) ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေးစနစ်များကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျလိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှုဆောင်ရွက်ချက်များကိုဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများ ပေးရမည်။

(င) ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited) သည် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း သက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြရမည်။

(စ) ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့်

ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီး နောက်သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်) ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက် (ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ် အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ် ထားခဲ့သည့် ပုံစံဖြင့် တင်ပြရမည်။

၃။ ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရ ဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့် အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီ အား ကော်မရှင်သို့ ပေးပို့ရမည်။

(ကျော်ဝင်း)

ဥက္ကဋ္ဌ

**ဒိုင်းမွန်းဒရက်ဂွန်ကုမ္ပဏီလီမိတက် (Diamond Dragon Company Limited)**

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ကျန်းမာရေးနှင့်အားကစားဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန